



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၂၉ /၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ ၁၃ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးကြည်ဆိုင်

(ခ) အဘ အမည် ဦးမြသာ

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၉/မခန (နိုင်) ၀၂၀၄၁၄

(ဃ) နေရပ်လိပ်စာ အမှတ် (၃၇၅)၊ လမ်း(၂၀)၊ (၁၁)ရပ်ကွက်၊မြင်းခြံမြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း သာယာဦးဆောက်လုပ်ရေးကုမ္ပဏီလီမိတက်
( Thar Yar Oo Construction Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခများကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မြင်းခြံ – မြို့သာ – တံတားဦးလမ်းအပိုင်း၏ မြင်းခြံ–မြို့သာ လမ်းအပိုင်း (၃၆)မိုင် (၆)ဖာလုံ

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၆၀၆၄.၁၀ (သန်း) (ကျပ် ခြောက်ထောင်၊ခြောက်ဆယ့်လေးသန်း၊တစ်သိန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၆၈ /၂၀၁၁ (မနသ)
နေပြည်တော်၊ ၁၃၇၃ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၃ ရက်
(၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာလ ၁၃ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ် ရေး လုပ်ငန်း ပိုင် မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း (၃၆)မိုင်၊ (၆)ဖာလုံကို B.O.Tစနစ်ဖြင့် ပြုပြင် ဖောက် လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်အဆိုပြုချက်အား(၇-၁၂-၂၀၁၁) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ (၂၇/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)အား မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း (၃၆)မိုင်၊ (၆)ဖာလုံကို B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ် ၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၈၂၉/၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင် ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာ ခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြ လျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်

Thar Yar Oo

ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၄။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထား၍ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)သည် မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း၏ မြင်းခြံ-မြို့သာ လမ်းအပိုင်း အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်ရာတွင် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်း နှင့် ချုပ်ဆိုမည့် B.O.T ပဋိညာဉ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းနှင့် သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)တို့ ချုပ်ဆိုမည့် မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း၏ မြင်းခြံ-မြို့သာ လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဉ် စာချုပ် လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင် ကို ဤ ကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၈။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)၏ မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း၏ မြင်းခြံ-မြို့သာ လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း သက်တမ်းမှာ နှစ် (၄၀) ဖြစ်သည်။ လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့

သို့မဟုတ် လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ်ရမည်။

၉။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

| | | | |
|---|---|---|---|
| (က) | ပထမ (၃)နှစ် အတွက် | - | ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - | ၅% ပေးသွင်းရန် |
| (ဂ) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - | ၁၀% ပေးသွင်းရန် |
| (ဃ) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် | - | ၁၅% ပေးသွင်းရန် |
| (င) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် | - | ၂၀% ပေးသွင်းရန် |

၁၀။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတား များ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန် သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်းပေးရမည်။

၁၁။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.) မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု ၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင် အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် ( ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)သည် အဆိုပြု လမ်းအပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက် တို့ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(စိုးသိန်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရကဓ- ၆(က) /မ- ၁၀၇၄ / ၂၀၁၁ (၁၅၅၆၂ )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ ၃၃ ရက်။

ဖြန့်ဝေခြင်း-

၁။ သမ္မတဦးစီးရုံး။

၂။ ဒုတိယသမ္မတ(၁)ဦးစီးရုံး။

၃။ ဒုတိယသမ္မတ(၂)ဦးစီးရုံး။

၄။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး။

၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၆။ ပြည်ထဲရေးဝန်ကြီးဌာန။

၇။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။

၈။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၉။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၁၀။ အလုပ်သမား ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၄။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၅။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ မန္တလေးမြို့။

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၆။ အုပ်ချုပ်မှုဒါရိုက်တာ၊ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်( Thar Yar Oo Construction Co., Ltd.)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

မ-၁၈၀
၉/၁၂

ဒုဥ ၃
၅/၁၂

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ ရက်။

အကြောင်းအရာ။ **သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)မှ မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း အသုံးပြုခကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ် ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာကုမ္ပဏီ ဖြစ်သော သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းပိုင် မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း၏ မြင်းခြံ-မြို့သာ လမ်းအပိုင်း (၃၆) မိုင်၊ (၆)ဖာလုံကို B.O.Tစနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၇-၁၂-၂၀၁၁) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၇/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့်အညီ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)အား မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း၏ မြင်းခြံ-မြို့သာ လမ်းအပိုင်း (၃၆)မိုင်၊ (၆)ဖာလုံကို B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ဆောင်ရွက်ရန် ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(သန့်စင်ကြိုင်)
ညွှန်ကြားရေးမှူး

ဒုတိယညွှန်ကြားရေးမှူးချုပ်

ဥက္ကဋ္ဌ လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။
၉-၁၂-၂၀၁၁
(အောင်နိုင်ဦး)

ဥက္ကဋ္ဌ
၁၃/၁၂

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၁ (မနသ)

နေပြည်တော်၊ ၁၃၇၃ ခုနှစ်၊ နတ်တော်လဆန်း ၃ ရက်

(၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ ၁၃ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း ပိုင် မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း၏ မြင်းခြံ-မြို့သာ လမ်းအပိုင်း (၃၆)မိုင်၊ (၆)ဖာလုံကို B.O.Tစနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၇-၁၂-၂၀၁၁)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ (၂၇/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)အား မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း၏ မြင်းခြံ-မြို့သာ လမ်း အပိုင်း (၃၆)မိုင်၊ (၆)ဖာလုံကို B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၈၂၉/၂၀၁၁ ကို ထုတ် ပေးလိုက်သည်။

၂။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင် ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာ ခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြ လျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ ၈ ရက်။

အကြောင်းအရာ။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)မှ မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း အသုံးပြုခကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ် ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

အထက် အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ကော်မရှင်၏ (၂၇/၂၀၁၁) (၇-၁၂-၂၀၁၁)အစည်းအဝေး ဆုံးဖြတ်ချက်အရ သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံသူသို့ ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့်အမိန့်ကြော်ငြာစာ(မူကြမ်း)တို့အားပြုစုတင်ပြအပ်ပါသည်။

8/12
(ဝင်းမို့မို့အေး)

ဒု-ဦးစီး

ဦးစီးအရာရှိ

ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ (မူကြမ်း) တို့အား ပြုစုတင်ပြ အပ်ပါသည်။

8/12
(ဦးစီး)

ဒု-ညွှန်မှူး

[illegible]

8/12 [illegible]

[illegible]

8/12

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ ရက်။

အကြောင်းအရာ။ **သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)မှ မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း အသုံးပြုခကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ် ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာကုမ္ပဏီ ဖြစ်သော သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းပိုင် မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း၏ မြင်းခြံ-မြို့သာ လမ်းအပိုင်း (၃၆) မိုင်၊ (၆)ဖာလုံကို B.O.Tစနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၇-၁၂-၂၀၁၁) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၇/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့်အညီ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)အား မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း၏ မြင်းခြံ-မြို့သာ လမ်းအပိုင်း (၃၆)မိုင်၊ (၆)ဖာလုံကို B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ဆောင်ရွက်ရန် ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ တွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(သန့်စင်ကြိုင်)
ညွှန်ကြားရေးမှူး

ဒုတိယညွှန်ကြားရေးမှူးချုပ်

ပုံစံ (မနသ - ၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၂၉ / ၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးကြည်ဝင်း

(ခ) အဘ အမည် ဦးမြသာ

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၉/မခန(နိုင်)၀၂၀၄၁၄

(ဃ) နေရပ်လိပ်စာ အမှတ်(၃၇၅)၊ လမ်း(၂၀)၊(၁၁)ရပ်ကွက်၊ မြင်းခြံမြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း သာယာဦး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် Thar Yar Oo Construction Co., Ltd.
~~(THAR YAR OO CONSTRUCTION CO., LTD.)~~

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား B.O.T စနစ်ဖြင့် လမ်းမြှင့်တင်ဆောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မြင်းခြံ-မိတ္ထီလာ-တောင်ကြီး လမ်း အပိုင်း ၁။ မြင်းခြံ - မိတ္ထီလာ လမ်းမ အပိုင်း (၃၆) မိုင် (၆) ဖာလုံ

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၆၀၆၄.၁၀ (သန်း)(ကျပ် ခြောက်ထောင့်ခြောက်ဆယ့် လေးသန်း ၊ တစ်သိန်း တိတိ)

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊     /၂၀၁၁ (မနသ)

နေပြည်တော်၊ ၁၃၇၃ ခုနှစ်၊ နတ်တော်လဆန်း     ရက်

(၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ     ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ် ရေး လုပ်ငန်း ပိုင် မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း/(၃၆)မိုင်၊ (၆)ဖာလုံကို B.O.Tစနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်အဆိုပြုချက်အား(၇-၁၂-၂၀၁၁) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၇/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)အား မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း/(၃၆)မိုင်၊ (၆)ဖာလုံကို B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၈၂၉/၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြ လျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်

ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၄။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)သည် မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်ရာတွင် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်း နှင့် ချုပ်ဆိုမည့် B.O.T ပဋိညာဉ်စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းနှင့် သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)တို့ ချုပ်ဆိုမည့် မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဉ် စာချုပ် လက်မှတ် ရေးထိုး ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင် ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၈။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)၏ မြင်းခြံ- မြို့သာ- တံတားဦး လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း သက်တမ်းမှာ နှစ် (၄၀) ဖြစ်သည်။ လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ သို့မဟုတ် လုပ်ငန်း အပြီးသတ်ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက်ကာလမှ စတင်သတ်မှတ်ရမည် ။

၉။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

(က) ပထမ (၃)နှစ် အတွက် - ကင်းလွတ်ခွင့်ကာလ

(ခ) (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် - ၅% ပေးသွင်းရန်

(ဂ) (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် - ၁၀% ပေးသွင်းရန်

(ဃ) (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် - ၁၅% ပေးသွင်းရန်

(င) (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် - ၂၀% ပေးသွင်းရန်

၁၀။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတား များ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန် သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်းပေးရမည်။

၁၁။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.) မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာ တွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု ၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင် အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် ( ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏

ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Thar Yar Oo Construction Co., Ltd.)သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက် တို့ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(စိုးသိန်း)

ဥက္ကဌ

စာအမှတ်၊ရက- ၆(က) /မ- လမ်း (၁၁၇၄) / ၂၀၁၁ ( )

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ ရက်။

ဖြန့်ဝေခြင်း-

၁။ သမ္မတဦးစီးရုံး။

၂။ ဒုတိယသမ္မတ(၁)ဦးစီးရုံး။

၃။ ဒုတိယသမ္မတ(၂)ဦးစီးရုံး။

၄။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး။

၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၆။ ပြည်ထဲရေးဝန်ကြီးဌာန။

၇။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။

၈။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၉။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၁၀။ အလုပ်သမား ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၄။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၅။ ~~စစ်ကိုင်း~~တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ~~စစ်ကိုင်း~~မြို့။

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၆။ အုပ်ချုပ်မှုဒါရိုက်တာ၊ သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်( Thar Yar Oo Construction Co., Ltd.)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

M-259
5/12

ရက်စွဲ၊ ၂၀၁၁ ခုနှစ် ဒီဇင်ဘာ လ ၅ ရက်

အကြောင်းအရာ။ **မုံရွာအုပ်စု ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်( မုံရွာ-ယာကြီး လမ်းပိုင်း)နှင့် သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်(မြင်းခြံ-မြို့သာ လမ်းပိုင်း)တို့မှ B.O.T စနစ်ဖြင့် လမ်း ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြလာ ခြင်းကိစ္စ**

အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဥ်း၍ ကော်မရှင် အစည်းအဝေးသို့ တင်ပြမည့် အမှာစာ **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြ အပ်ပါသည်။

5/12 (ဝင်းမိုးမိုးအေး) ဦး-ဦးစီး
5/12 (ခင်မြို့ဆွေ) ဒု-ဦးစီး

ဦးစီးအရာရှိ

အမှာစာ (စာချော) တွင်လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

5/12
(ခန္ဓာ)

ဒု ညွှန်မှူး

[illegible]

5/12 ([illegible])

ညွှန်ကြားရေးမှူး

စာချောတွင် [illegible]

5/12

ဒုတိယ ညွှန်ကြားရေးမှူးချုပ်

[illegible]

[illegible] (ကျော်ဦး)

ညွှန်ကြားရေးမှူးချုပ်

6/12

Monywar-Yargyi Ns.doc

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(က) /မ-လမ်း /၂၀၁၁ (၁၅၀၄၈)
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ ၅ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **မုံရွာအုပ်စု ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (မုံရွာ-ယာကြီး လမ်းအပိုင်း ) နှင့် သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( မြင်းခြံ-မြို့သာ လမ်းအပိုင်း ) တို့ မှ BOT စနစ်ဖြင့် လမ်း ပြုပြင် ဖောက်လုပ်၍ လမ်း၊တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီး ဌာန မှတစ်ဆင့် အဆိုပြုချက်များ တင်ပြလာ ခြင်း ကိစ္စ။**

၁။ အောက်ပါလမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင် ခွင့်ပြုမိန့်ရရှိရေးအတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်-

| စဉ် | ကုမ္ပဏီ အမည် | လုပ်ငန်း တည်နေရာ | လမ်းအရှည်မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု |
|---|---|---|---|---|
| (က) | မုံရွာအုပ်စု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မုံရွာ-ယာကြီး လမ်းအပိုင်း | (၄၀)မိုင် | ကျပ် ၂၃၅၉.၈၀ သန်း |
| (ခ) | သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မြင်းခြံ-မြို့သာ လမ်းအပိုင်း | (၃၆)မိုင် (၆)ဖာလုံ<br>Phase 1 - ၈.၇၅မိုင်<br>Phase 2- ၁၄ မိုင်<br>Phase 3 -၁၄ မိုင် | **ကျပ် ၆၀၆၄၀.၁၀ သန်း**<br>Phase1 - ကျပ်၁၄၄၃.၈၃၅သန်း<br>Phase 2 -ကျပ်၂၃၁၀.၁၃၆သန်း<br>Phase 3- ကျပ်၂၃၁၀.၁၃၆သန်း |

၂။ အဆိုပြုလမ်းအပိုင်းများရှိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှတည်ဆောက် ထားသည့် (၁၈၀) ပေ အထက် တံတားများအတွက် တံတားအသုံးပြုခ ကောက်ခံမှုများကို ကုမ္ပဏီများသို့ လေလံစနစ်ဖြင့် ဆောင်ရွက်စေပြီး၊ ကုမ္ပဏီမှ ကောက်ခံခြင်းစနစ်ဖြင့် ဆောင်ရွက်ပါသည်။ လမ်း အပိုင်း အလိုက် (၁၈၀) ပေ အထက် တံတားကြီးများ တည်ဆောက်ထားမှုမှာ တစ်ဖက်ပါအတိုင်း ဖြစ် ပါသည်-

| စဥ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှ တည်ဆောက်သည့် တံတား (ကုမ္ပဏီမှ ကောက်ခံခြင်း) | မှတ်ချက် |
|---|---|---|---|---|
| (က) | မုံရွာ-ယာကြီး လမ်းအပိုင်း (၄၀)မိုင် (မုံရွာအုပ်စု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) | - ချင်းတွင်း တံတား (၄၇၃၀.၂)ပေ | - | |
| (ခ) | မြင်းခြံ-မြို့သာလမ်းအပိုင်း (၃၆)မိုင် (၆)ဖာလုံ (သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) | - | - | |

၃။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့ချုပ်ဆိုမည့် ပဋိညာဥ်စာချုပ်(မူကြမ်း)များပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေး ကာလ)မှာ (၃)နှစ် ဖြစ်ပါသည်။ (စာချုပ်အပိုဒ် ၉-ဂ(၁))

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး နှစ်ဖက် သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ် စီဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်း ကာလကို လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှုလက်မှတ် ထုတ်ပေးသည့်နေ့၊ ထိုနှစ်ရပ်အနက် စောရာ နေ့ရက် ကာလမှ စတင်သတ်မှတ်မည် ဖြစ်ပါ သည်။ (စာချုပ်အပိုဒ် ၅-ဃ)

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခ နှုန်းထားများအတိုင်း ကောက်ခံမည် ဖြစ်ပါသည်-

| စဥ် | ယာဥ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း(ကျပ်) |
|---|---|---|
| (၁) | (၁)တန်အောက် ယာဥ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| (၂) | (၁)တန်မှ (၃)တန်အထိ ယာဥ်များ | ၁၂ ကျပ် ၃၉ ပြား |
| (၃) | (၅)တန်အောက် ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| (၄) | (၁၀)တန်အောက် ကုန်တင်ယာဥ်ကြီးများ | ၄၁ ကျပ် ၃၀ ပြား |

(၅) (၂၀)တန်အထိ ကုန်တင်ယာဥ်ကြီးများ ၈၂ ကျပ် ၅၉ ပြား

(၆) (၂၀)တန်အထက် တန်ပို(၁)တန်လျှင် ၈ ကျပ် ၂၆ ပြား

(ဃ) တံတားအသုံးပြုခများကို ပေ(၁၈၀)နှင့် အထက် ရှည်သည့် တံတားများအတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်ထားသော တံတားများ အတွက် ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့ ညှိနှိုင်း သဘောတူညီ သည့်နှုန်းထားဖြင့် လည်းကောင်း ကောက်ခံရမည် ဖြစ်ပါသည်။ (စာချုပ်အပိုဒ် ၈-ခ(၁))

(င) လမ်း၊ တံတား အသုံးပြုခ ရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြားအလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်- (စာချုပ်အပိုဒ် ၅-ပ)

(၁) ပထမ (၃)နှစ်အတွက် ------- ကင်းလွတ်ခွင့်ကာလ

(၂) (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ(၁၀)နှစ် -------- ၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက် မှ (၂၃) နှစ်မြောက် အထိ (၁၀)နှစ် -------- ၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃) နှစ်မြောက် အထိ (၁၀)နှစ် -------- ၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက် မှ (၄၀) နှစ်မြောက် အထိ (၇)နှစ် -------- ၂၀% ပေးသွင်းရန်

* B.O.T နှစ်လေးဆယ် ပြည့်ပြီးနောက် သက်တမ်းတိုးခွင့် ရရှိပါက နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရမည် ဖြစ်ပါသည်။

(စ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ်ချုပ်ဆိုပြီး (၃၀) ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကို ထားရှိ ပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့် နေ့မှ လုပ်ငန်းပြီးဆုံးအောင် ဆောင်ရွက်သည်အထိ ဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်း စတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင်သော် လည်းကောင်း၊ သတ်မှတ် ကာလအတွင်း လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံ ငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူ ရမည်ဖြစ်ပါသည်။ ဘဏ်အာမခံငွေ ကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသို့ ပြန်လည် ထုတ်ပေးရပါမည်။(စာချုပ် အပိုဒ် -၆)

(ဆ) အဆိုပြု ကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လုပ်ကိုင်ခွင့် မပြုရပါ။(စာချုပ် အပိုဒ် ၅-ထ)

(ဇ) လုပ်ငန်း စတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာန)မှ လုပ်ငန်းစတင်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ)သို့ အကြောင်းကြားသည့်နေ့ဖြစ်ပါသည်။ (စာချုပ် အပိုဒ် ၉-ခ)

(ဈ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့်ကာလ နှစ်(၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့်ကာလများ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ၊ ဂိတ်များနှင့် အဆောက် အဦများကို ဆောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။(စာချုပ် အပိုဒ် ၂၀)

၄။ လမ်းအပိုင်းအလိုက် လမ်း ဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက် ခွင့်ပြုသည့် နေ့ရက် များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| စဥ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | လုပ်ငန်းစတင် ဆောင်ရွက်ခွင့်ပြုသည့် နေ့ |
|---|---|---|---|
| (က) | မုံရွာအုပ်စု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မုံရွာ-ယာကြီး လမ်း အပိုင်း (၄၀)မိုင် | ၁-၁၂-၂၀၀၉ |
| (ခ) | သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မြင်းခြံ-မြို့သာ လမ်း အပိုင်း (၃၆)မိုင်၊ (၆)ဖာလုံ | ၁-၆-၂၀၁၀ |

၅။ အဆိုပြုလမ်းအပိုင်း ကုမ္ပဏီများ၏ ငွေကြေးအထောက်အထား တင်ပြထားမှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| စဥ် | ကုမ္ပဏီအမည် | ငွေကြေးတင်ပြထားမှု |
|---|---|---|
| (က) | မုံရွာအုပ်စု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ကျပ်ငွေ အထောက် အထား အဖြစ် အုပ်ချုပ်မှု ဒါရိုက်တာ ဦးသန်းထွန်း အမည်ဖြင့် ရောဝတီဘဏ်ရှိ (၇-၁၀-၂၀၁၁) နေ့ ငွေလက်ကျန် ကျပ် (၅၉၀.၀၀)သန်း နှင့် ဒါရိုက်တာ ဖြစ်သူ ဦးဟန်ထွန်း + ၁ အမည်ဖြင့် ရောဝတီဘဏ် ရှိ (၆-၁၀-၂၀၁၁)နေ့ငွေလက်ကျန်ကျပ်(၂၅၀.၀၀) သန်း စုစုပေါင်းကျပ်(၈၄၀.၀၀) သန်း ကိုတင်ပြထားပါသည်။ သုံးစွဲရန် ကျပ်ငွေ (၁၀၁၅.၇၄) သန်း ၏ ( ၈၃% ) ကို တင်ပြထားကြောင်း စိစစ်ရပါသည်။ |

| စဉ် | ကုမ္ပဏီအမည် | ငွေကြေးတင်ပြထားမှု |
| --- | --- | --- |
| (ခ) | သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | - ကျပ်ငွေ အထောက် အထား အဖြစ် အုပ်ချုပ်မှု ဒါရိုက်တာ ဦးကြည်ဆိုင် အမည်ဖြင့် မွေး/ရေ ဘဏ် (မြင်းခြံ)ရှိ (၂-၁၁-၂၀၁၁)နေ့ ငွေ လက်ကျန် ကျပ် (၂၉၅.၅၀) သန်းကို လည်းကောင်း၊ မြန်မာ့ စီးပွားရေးဘဏ် (မြင်းခြံ) ရှိ (၂-၁၁-၂၀၁၁)နေ့ ငွေ လက်ကျန် ကျပ် (၈၆.၆၁) သန်း နှင့် ကမ္ဘောဇဘဏ် (မြင်းခြံ) ရှိ (၁-၁၁-၂၀၁၁)နေ့ ငွေလက်ကျန် (၂၉၀.၃၁)သန်း စုစုပေါင်း ငွေ ကျပ် (၆၇၂.၄၂) သန်းတို့ကို တင်ပြ ထားပါသည်။ Phase 1 တွင် သုံးစွဲရန် ကျန်ငွေ (၅၇၆.၄၃)သန်း အတွက် လုံလောက်ကြောင်း စိစစ်ရပါသည်။ |

၆။ <u>စိစစ်တင်ပြချက်</u>

ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကော်မရှင်သို့ တင်ပြခွင့်ပြုချက် ရယူခဲ့သည့် BOT လမ်း လုပ်ငန်းများကို အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်။

| | | **အရေအတွက်(ခု)** |
| --- | --- | --- |
| (က) | ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးပြီး လမ်း လုပ်ငန်း | ၄၈ |
| (ခ) | ကော်မရှင်သို့ တင်ပြပြီး စိစစ်လျက်ရှိ သည့် လမ်း လုပ်ငန်း | ၁ |
| | စုစုပေါင်း | ၄၉ |

(ဂ) ကုမ္ပဏီများ၏ မှတ်ပုံတင် သက်တမ်း ကုန်ဆုံးပြီး ဖြစ်ပါသဖြင့် သက်တမ်း တိုးမြှင့်ပေးရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၇။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၈။ အဆိုပြု လမ်းအပိုင်း(၂)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုချက်များကို ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် တင်ပြခြင်းအပေါ် စီးပွားရေးဆိုင်ရာ အသေးစိတ် အချက်အလက်များကို ပူးတွဲ တင်ပြလျှာက် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အေးကို၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ- ရုံးလက်ခံ /မျှောစာတွဲ။

**မုံရွာ-ယာကြီး လမ်းအပိုင်း(မုံရွာအုပ်စုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိက အချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မုံရွာအုပ်စုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ ၁၁၆၁/ ၂၀၀၉ - ၂၀၁၀ (၁၀-၁၁-၂၀၀၉) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးသန်းထွန်း(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မုံရွာ-ယာကြီး လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍လမ်းအသုံးပြုခကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - မုံရွာ-ယာကြီးလမ်းအပိုင်း (၄၀ မိုင်) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၂၃၅၉.၈၀ သန်း |
| | - ငွေပမာဏ | ၂၀၇.၂၁၅ |
| | - ကုန်ကြမ်းတန်ဘိုး | ၈၈၆.၂၄၃ |
| | - တံတားနှင့်ရေကျော်လုပ်ငန်း | ၄၂၆.၈၆၀ |
| | - အဆောက်အဦ | ၁၈၀.၀၀၀ |
| | - စက်ပစ္စည်းကိရိယာများ | ၆၆၀.၀၇၂ |
| ၆။ | လမ်းတံတားအသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား/အပြန် ခရီးအတွက် လက်ခုပ်ပင်ဂိတ် (၁)ဂိတ် |
| ၇။ | ဝင်ငွေ (တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ် မြောက် ဝင်ငွေအား ကောက် နုတ် တင်ပြထားခြင်းဖြစ်ပါသည်။) | - ကျပ် ၁၄၄.၄၆ သန်း |
| ၈။ | အသားတင်အမြတ် (၇နှစ်မြောက်) | ကျပ် ၇.၆၉၈ သန်း |
| ၉။ | အရင်းကြေကာလ | (၃၀) နှစ် နှင့် (၃)လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ၁.၉၀ % |

| | | |
|---|---|---|
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး<br>အမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၃.၂၉၉ သန်း<br>ကျပ် ၇.၃၄၄ သန်း |
| ၁၂။ | လုပ်သားအင်အား<br>- တည်ဆောက်ရေးကာလ<br>- လုပ်ငန်းဆောင်ရွက်မှုကာလ | <br>- ၁၅၅ ဦး<br>- ၂၀ ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |

**မြင်းခြံ-မြို့သာ လမ်းအပိုင်း ( သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်) အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိက အချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - သာယာဦး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ ၈၄၀/ ၂၀၀၉ - ၂၀၁၀ (၁၇-၉-၂၀၀၉) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကြည်ဆိုင်(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မြင်းခြံ-မြို့သာ-တံတားဦး လမ်းအပိုင်း ၏ မြင်းခြံ-မြို့သာ လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - မြင်းခြံ-မြို့သာ လမ်းအပိုင်း လမ်းအပိုင်း (၃၆)မိုင်၊ (၆)ဖာလုံ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | **(ကျပ်/သန်း)** |
| ၆။ | လမ်းတံတားအသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ | - <u>အသွား/အပြန် ခရီးအတွက်</u> မြင်းခြံ-မြို့သာ ဂိတ် (၁)ဂိတ် |
| ၇။ | ဝင်ငွေ (တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ် မြောက် ဝင်ငွေအား ကောက် နုတ် တင်ပြထားခြင်းဖြစ်ပါသည်။) | **Phase-1** ကျပ်၇၅.၁၁သန်း; **Phase-2** ကျပ်၁၂၂.၆သန်း; **Phase-3** ကျပ်၁၂၂.၆သန်း |
| ၈။ | အသားတင်အမြတ် (၇နှစ်မြောက်) | Phase-1 ကျပ်၈.၀၆သန်း; Phase-2 ကျပ်၁၀.၉၂သန်း; Phase-3 ကျပ်၁၀.၉၂သန်း |

Item ၅ (ကျပ်/သန်း):

| | Phase-1 | Phase-2 | Phase-3 | စုစုပေါင်း |
|---|---|---|---|---|
| - ငွေပမာဏ | ၃၄.၂၇၂ | ၁၂၅.၆၆၄ | ၁၂၅.၆၆၄ | ၂၈၅.၆၀၀ |
| - လမ်းလုပ်ငန်း | ၁၁၂၇.၇၂၃ | ၁၉၃၀.၁၄၃ | ၁၉၃၀.၁၄၃ | ၄၉၉၀.၀၁၀ |
| -တံတားနှင့်ရေကျော်လုပ်ငန်း | ၃၉.၆၄၀ | ၁၃၇.၃၂၅ | ၁၃၇.၃၂၅ | ၃၁၄.၂၉၀ |
| - အဆောက်အဦ | ၃၀.၀၀၀ | ၁၆.၀၀၀ | ၁၆.၀၀၀ | ၆၂.၀၀၀ |
| - စက်ပစ္စည်းကိရိယာများ | ၂၁၀.၂၀၀ | ၁၀၁.၀၀၀ | ၁၀၁.၀၀၀ | ၄၁၂.၂၀၀ |
| -စုစုပေါင်း | **၁၄၄၃.၈၃၅** | **၂၃၁၀.၁၃၂** | **၂၃၁၀.၁၃၂** | **၆၀၆၄.၁၀၀** |

| | | Phase-1 | Phase-2 | Phase-3 |
|---|---|---|---|---|
| ၉။ | အရင်းကြေကာလ | ၂၉ နှစ် | ၃၀ နှစ် | ၃၀ နှစ် |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ၂.၅၆ % | ၂.၃၆ % | ၂.၃၆% |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ် | | | |
| | - ဝင်ငွေခွန် | ကျပ်၃.၄၅သန်း | ကျပ်၄.၆၈သန်း | ကျပ်၄.၆၈သန်း |
| | - လမ်းတံတားဖြတ်သန်းခ ရငွေ | ကျပ် ၃.၈၃သန်း | ကျပ်၆.၁၃သန်း | ကျပ်၆.၁၃သန်း |
| ၁၂။ | လုပ်သားအင်အား | | | |
| | - တည်ဆောက်ရေးကာလ | - ၂၉၀ ဦး | | |
| | - လုပ်ငန်းဆောင်ရွက်မှုကာလ | - ၁၈ ဦး | | |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံ ကတိပြု ထားပါသည်။ | | |




ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
**ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း**
ရုံးအမှတ် (၁၁)၊ နေပြည်တော်
ဖုန်း - ၀၆၇ - ၃၈၀၀၇၂၊ ဖက်(စ်) - ၀၆၇ - ၄၀၇၀၇၃
အီးမေးလ် - PW Const @ mpt mail-net.mm

စာအမှတ် - လစမ/B.O.T/ကြိုတင်/၂၀၁၀-၂၀၁၁/၄၄၅
ရက် စွဲ - ၂၀၁၀ ခုနှစ်၊ ဇွန်လ ( ၁ ) ရက်

အကြောင်းအရာ။ **B.O.T. စနစ်ဖြင့် လမ်း၊ တံတားလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရန်အတွက် လုပ်ငန်းကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးခြင်း။**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသည် သာယာဦးဆောက်လုပ်ရေးကုမ္ပဏီလီမိတက် အား မြင်းခြံ-မြို့သာ-တံတားဦးလမ်း (မြင်းခြံ-မြို့သာအပိုင်း) (၃၆/၆) မိုင် ကို B.O.T. စနစ်ဖြင့် စတင် အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေးအတွက် ( ၂၈ - ၅ - ၂၀၁၀ ) နေ့တွင် ကျင်းပပြုလုပ်သည့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ် ( ၁၅/၂၀၁၀ ) မှ သတ်မှတ်ပေးသည့် လုပ်ငန်းကြိုတင် ဆောင်ရွက်ခွင့် မူဝါဒ ( ၂၀ ) ချက်နှင့် ပြည့်စုံ၍ သဘောတူ လက်မှတ်ရေးထိုးပြီးဖြစ်သည့်အတွက် လုပ်ငန်းကို ကြိုတင်ဆောင်ရွက်ရန် ခွင့်ပြုလိုက်သည်။

၂။ အထက်ဖော်ပြပါ ကုမ္ပဏီသည် ကြိုတင်ခွင့်ပြုမိန့် ရရှိပြီး ( ၇ ) ရက်အတွင်း လုပ်ငန်းခွင်သို့ စတင်ဝင်ရောက်၍ လမ်း၊ တံတား အသုံးပြုခကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ သတ်မှတ်နှုန်းထားအတိုင်း ကောက်ခံရန်၊ ( ၂ ) ပတ် အတွင်း ကုမ္ပဏီဆိုင်းဘုတ်တပ်ဆင်ရန်နှင့် ( ၃ ) လအတွင်း B.O.T. အဆိုပြုလွှာ အပြည့်အစုံနှင့် တင်ပြ၍ လျှောက်ထားရမည်။

၁. ၆. ၂၀၁၀

(ကျော်လင်း)
ခေတ္တ ဦးဆောင်ညွှန်ကြားရေးမှူး

သို့ သာယာဦးဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

B.O.T (K)Letter Head

မိတ္တူကို - အမှတ် ( ) စစ်ဆင်ရေးအထူးအဖွဲ့မှူးရုံး၊ ကာကွယ်ရေးဝန်ကြီးဌာန

- ——————— ပြည်နယ်/တိုင်းဒေသကြီးအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ————— မြို့

- ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန

- ဦးဆောင်ညွှန်ကြားရေးမှူး (ရုံး)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- ဒု-ဦးဆောင်ညွှန်ကြားရေးမှူး (လုပ်ငန်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- အင်ဂျင်နီယာချုပ် (လမ်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- အထွေထွေမန်နေဂျာ (ဘဏ္ဍာရေး)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- အထွေထွေမန်နေဂျာ (ထုတ်လုပ်ရေး)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- ဒု-အင်ဂျင်နီယာချုပ် (လမ်း)၊ လမ်းဦးစီး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- အင်ဂျင်နီယာမှူးကြီး၊ ————————————၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ——————————— မြို့။ [ B.O.T. လုပ်ငန်း စတင်ဝင်ရောက်လုပ်ကိုင်သည့် အခြေအနေကို ရုံးချုပ်သို့ အချိန်နှင့် တစ်ပြေးညီ တင်ပြရန် ၊ လမ်း၊ တံတားလုပ်ငန်းခွင်သို့ ဝင်ရောက်စစ်ဆေး၍ လိုအပ်သည်များ ညွှန်ကြားပေးရန် ၊ စနစ်တကျ မှတ်တမ်းတင်ထားရန်နှင့် ပူးပေါင်း ကူညီဆောင်ရွက်ပေးရန် အကြောင်းကြားပါသည် ။ ]

- ရုံးလက်ခံ

- မျှော




တိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ
မန္တလေး တိုင်း - မန္တလေး မြို့
စာအမှတ်၊ ၅ / ၄၃ - ၂၂၀ / ဦး ၆ (၅၁၈၇)
ရက်စွဲ ၊ ၂၀၁၀ ပြည့်နှစ် ၊ မတ်လ ၂၆ ရက်

တိကျမှန်ကန်

သို့

အမှတ်(၁)စစ်ဆင်ရေးအထူးအဖွဲ့မှူးရုံး
ကာကွယ်ရေးဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ **(ဘီ–အိုု–တီ) စနစ်ဖြင့်လုပ်ကိုင်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် ထောက်ခံခြင်း**

သာယာဦး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်သည် မြင်းခြံ-မြို့သာ-တံတားဦးလမ်း(မြင်းခြံခရိုင် အပိုင်း) (၃၆ မိုင် ၆ ဖာလုံ) လမ်းအပိုင်းကို (ဘီ-အိုု-တီ)စနစ်ဖြင့် အဆင့်မြင့်တင် ဖောက်လုပ်ခြင်းလုပ်ငန်းအား စံချိန်စံညွှန်းများအတိုင်းစက်ယန္တရားကြီးများဖြင့် ပြုပြင်တည်ဆောက်လိုပါကြောင်း တင်ပြလာခြင်းနှင့် ပတ်သက်၍ အဆိုပါလမ်းများအား (ဘီ-အိုု-တီ) စနစ်ဖြင့် လုပ်ကိုင်ခွင့်ရရှိရေး ဆောင်ရွက်ပေးနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
**( ဦးခင်မောင်သန်း ၊ အတွင်းရေးမှူး )**

မိတ္တူကို

အင်ဂျင်နီယာမှူးကြီး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊မန္တလေးတိုင်း၊မန္တလေးမြို့။
မန်နေဂျင်းဒါရိုက်တာ ၊ သာယာဦး ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် ၊ မြင်းခြံမြို့

# မြင်းခြံ–မြို့သာ လမ်းစီမံကိန်း

မိုင်အရှည် – ၃၆ မိုင် ၆ ဖာလုံ
လမ်းအစ – မြင်းခြံ–မြို့သာ–တံတားဦးလမ်းမိုင်၄၅၅/၂
လမ်းအဆုံး – မြင်းခြံ–မြို့သာ–တံတားဦးလမ်းမိုင်၄၉၂/၀
ထောက်ခံချက် ။ ။ မန္တလေးတိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ( ၂၆.၃.၂၀၁၀ ) နေ့စွဲပါ စာအမှတ် ၅/၄၃ – ၂၂၁/ ဦး ၆ (၅၁၀၇)

## (၆၀)တန်လမ်းဒီဇိုင်း

| | |
|---|---|
| လမ်းတာဘောင်အကျယ် | (၄၀) ပေ |
| ယာဉ်သွားလမ်းအကျယ် | (၂၄) ပေ |
| လမ်းပုခုံးအကျယ် | ( ၄) ပေ |
| အပွန်းခံလွှာ | ၃" သိပ်သည်းထု ကျောက်နှင့်ကတ္တရာရေပိတ်လွှာ |
| အခြေခံလွှာ | ၉" |
| ဒု အခြေခံလွှာ | ၁၂" |
| အောက်ခံမြေကိုကောင်းသော မြေအမျိုးအစားဖြင့် အစားထိုး တည်ဆောက်ခြင်း။ | ၁၀" |
| တံတား တန် (၆၀) | (၄၅)စင်း |
| စီမံကိန်းတန်ဘိုး | ကျပ် (၆ပ၆၄.၁၀) သန်း |
| I R R | ၁.၂၈% |
| Rrcoupment Period | ၃၂ နှစ် ၉ လ |
| စီမံကိန်းကာလ | နှစ် (၄၀) |

# သာယာဦး

## ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

အမှတ်(၁၁/၃၇၅)၊ လမ်း(၂၀)၊ မြင်းခြံမြို့။ ၀၉ ၂၂၁၆၀၀၇၊ ၀၉ ၂၂၁၆၀၉၀၊ ၀၉ ၆၅၂၅၂၄၄၊ ၀၆၆ ၂၂၀၃၂

သို့

ဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
နေပြည်တော်။

စာအမှတ်၊ ၄၁(၂)သာယာဦး/အဆိုပြု/၂၀၁၁-၂၀၁၂
ရက် စွဲ ၊ ၂၀၁၁ ခုနှစ်၊ မေလ ( ၃ ) ရက်

အကြောင်းအရာ။ **မြင်းခြံ-မြို့သာ-တံတားဦးလမ်း(မြင်းခြံ-မြို့သာအပိုင်း) (၁၆) မိုင် (၆) ဖာလုံအပိုင်းကို ပြုပြင်ဖောက်လုပ် လုပ်ငန်းလုပ်ကိုင်ခွင့်ရရေးအတွက် အဆိုပြုလွှာ တင်သွင်းခြင်း။**

ရည် ညွှန်း ချက်။ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ (၂၂.၂.၂၀၀၇) နေ့စွဲပါစာအမှတ်၊ ၁/ခွဲ-၂/ထွေ ၂၀၀၇ (စီ ၉၄၅)

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ရည်ညွှန်းချက်ပါစာအရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ ညွှန်ကြားချက်နှင့်အညီ " သာယာဦးဆောက်လုပ်ရေးကုမ္ပဏီလီမိတက် " မှ မြင်းခြံ-မြို့သာ-တံတားဦးလမ်း (မြင်းခြံ-မြို့သာအပိုင်း) (၁၆) မိုင် (၃) ဖာလုံအပိုင်းကို ပြုပြင်ဖောက်လုပ် လုပ်ငန်း လုပ်ကိုင်ခွင့်ရရှိရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြရန် အဆိုပြုချက် (မူကြမ်း) ကို တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးကြည်ဆိုင်
မန်နေဂျင်းဒါရိုက်တာ
သာယာဦးဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

မိတ္တူကို

၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)၊ နေပြည်တော်။
၂။ အင်ဂျင်နီယာချုပ် (လမ်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)၊ နေပြည်တော်။
၃။ ရုံးလက်ခံ

လျှို့ဝှက်

ခွဲ - ၂

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပြည်ထောင်စုရှေ့နေချုပ်ရုံး
## နေပြည်တော်

စာအမှတ်၊ ၂(၅) ၄ -၁၃/နပတ (၃၀၆)

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဇွန်လ ၁၄ ရက်

အကြောင်းအရာ။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့်သာယာဦးဆောက်လုပ်ရေးကုမ္ပဏီလိမိတက်တို့အကြား ချုပ်ဆိုမည့် B.O.T စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်နိုင်ရေးအတွက် ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးရန်ကိစ္စ

ရည် ညွှန်း ချက် ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၂၆-၅-၂၀၁၁ ရက်စွဲပါစာအမှတ်၊ ၁/ခွဲ -၂ /ထွေ/ ၂၀၁၁(ကုမ္ပဏီ)(စီ ၃၆၉၀)

၁။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် သာယာဦးဆောက်လုပ်ရေးကုမ္ပဏီလီမိတက်တို့ သည် မြင်းခြံ-မြို့သာ-တံတားဦးလမ်း(မြင်းခြံ-မြို့သာ)လမ်းပိုင်း(၃၆/၆ မိုင်)ကို B.O.T စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်ရေးနှင့် လွှဲပြောင်းပေးရေးလုပ်ကိုင်ဆောင်ရွက်ရန် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စဖြစ်ပါ သည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့်ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)မှာ၍ရုံး၏ ၂၀-၁-၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ၂(၅)၄-၄/နပတ/(၄၅)ဖြင့်အကြံပြုပြန်ကြားခဲ့သော ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကောင်းမွန်(မကွေး)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)နှင့် အလားတူ ပြုစုထားသည်ကိုတွေ့ရှိရပါသည်။

လျှို့ဝှက်



၁၈၀၃
၀၆.၆.၂၀၁၁.

WH

